ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon Excelsior Co., Ltd. မှ Hotel Business လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁၁-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၁-၁၂-၂၀၁၅ | ၃၁-၁၂-၂၀၁၅ | (၂၁)ရက် |
| | ( ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၁၀-၁၂-၂၀၁၅ | ၂၃-၁၂-၂၀၁၅ | (၁၄)ရက် |
| | ( ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန | ၁၀-၁၂-၂၀၁၅ | ၂၄-၁၂-၂၀၁၅ | (၁၅)ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၄/၂၀၁၅)သို့ တင်ပြခြင်း | ၃၀-၁၁-၂၀၁၅ | ၄-၁၂-၂၀၁၅ | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်းနှင့် အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄၄/၂၀၁၅)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၉-၁၂-၂၀၁၅ | - | |
| ၅ | ကုမ္ပဏီမှ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၃၀-၁၂-၂၀၁၅ | - | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၂၉-၁-၂၀၁၆ | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၄ /၂၀၁၆ | |
| ၈ | **စုစုပေါင်းကြာမြင့်ရက်** | **( ၇၀ ) ရက်** | | |

ကုမ္ပဏီအမည် - Yangon Excelsior Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
- ဒေါ်စုစုတင် (မြန်မာ) ၃၀ %
- Apple Tree Hospitality Pte., Ltd. (စင်ကာပူ) ၇၀ %

လုပ်ငန်းအမျိုးအစား - Hotel Business လုပ်ငန်း

တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၄၃)၊ မြေဧရိယာ (အလျား ၂၀၂' ၁၁" x အနံ ၆၀')ရှိ မြေကွက်နှင့် မြေပေါ်ရှိ ၄ထပ် အဆောက်အဦ (ယခင် ကုန်သွယ်ရေး ကော်ပိုရေးရှင်း အမှတ်-၅ ရုံးဟောင်း)

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - US$ ၁၁.၄၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ်

အရင်းကြေကာလ - ၆ နှစ် ၂ လ

IRR - ၂၁.၄၂ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင် ကြေး | | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၂၂၂၀.၀၈ သန်း |
| ၄ | သွင်းကုန်အခွန် ကင်းလွတ်ခွင့် | ကျပ် ၄၆၇.၈၈ သန်း | |
| ၅ | ဝင်ငွေခွန် | ကျပ် ၂၀၉၉.၀၁ သန်း | ကျပ် ၆၉၈၇.၆၄ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၂၃၁.၈၂ သန်း |
| ၇ | CSR (၂ %) | | ကျပ် ၂၃၆.၃၅ သန်း |
| ၈ | လျှပ်စစ်ဓါတ်အား သုံးစွဲခ | | ကျပ် ၂၃၂.၀၁ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း(၁၉၉)ဦးနှင့် ပြည်ပ (၁)ဦး |
| | | ပြည်တွင်း လုပ်သား(၁၉၉)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ | |
| | | ကျပ် ၂၅၆၉.၀၅ သန်း | ကျပ် ၉၉၀၉.၀၇ သန်း |
| | Cost : Benefit | ၁ : ၄ | |

# ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon Excelsior Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၄၃)(ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်-၅ ရုံးဟောင်း)တွင် ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon Excelsior Co., Ltd.<br>Apple Tree Hospitality Pte., Ltd. ၇၀%<br>ဒေါ်စုစုတင် ၃၀% |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်စုစုတင် (အဘ-ဦးညွန့်တင်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)၊ မြေဧရိယာ (အလျား ၂၀၂' ၁၁" x အနံ ၆၀' ) ရှိ မြေကွက် နှင့် မြေပေါ်ရှိ ၄ထပ် အဆောက် အဦ(ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်းအမှတ်-၅ ရုံးဟောင်း) |
| ၂။ | တည်ဆောက်ရေးကာလ | - ၁ နှစ် နှင့် ၉ လ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ် |
| ၄။ | မြေ နှင့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ်ပါ အဓိကအချက်များ | - မြေနှင့်အဆောက်အဦ ငှားရမ်းကာလမှာ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၅ ရက်နေ့ မှ ၂၀၆၅ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့အထိ နှစ်(၅၀)ဖြစ်သည်။<br>- သက်တမ်းတိုးမြှင့်ငှားရမ်းကာလမှာ နှစ်ဘက် သဘောတူညီမှု ရရှိပါက တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် နှစ်ကြိမ် တိုးမြှင့်နိုင်မည် ဖြစ်ပါသည်။<br>- နှစ်စဉ် ငှားရမ်းခနှုန်းထားမှာ ဟိုတယ်စတင် ဖွင့်လှစ်သည့်နေ့ (သို့မဟုတ်)စာချုပ် ချုပ်ဆို သည့်နေ့မှ ၂၁ လပြည့်သည့်နေ့တွင် အမေရိကန်ဒေါ်လာ ၄၀၀,၀၀၀ အား နှစ်စဉ် ပေးသွင်း ရမည် ဖြစ်သည်။<br>- မြေအသုံးချမှုပရီမီယံကြေးအဖြစ် US$ ၁,၃၀၀,၀၀၀ ၏ ၅၀ % ဖြစ်သော US$ ၆၅၀,၀၀၀ ကို စာချုပ် ချုပ်ဆိုသည့်နေ့တွင် ပေးချေရမည် ဖြစ်ပြီး ကျန် ၅၀ % ဖြစ်သော US$ ၆၅၀,၀၀၀ ကို လက်မှတ်ရေးထိုးပြီးချိန်မှစ၍ တစ်နှစ်အတွင်း ပေးသွင်းရမည် ဖြစ်သည်။ |
| | | |

| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>- Cash<br>- Machinery & Equipment<br>- Value of Furniture & Equipments<br>- List of initial total supplies<br>Civil work materials | - US$ ၁၁.၄၀ သန်း<br>- US$ ၅.၆၀ သန်း<br>- US$ ၁.၀၄ သန်း<br>- US$ ၄.၀၄ သန်း<br><br>- US$ ၀.၁၉ သန်း<br>- US$ ၀.၅၃ သန်း |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် အဆောက်အအုံအတွက် တင်သွင်းမည့် စက်ပစ္စည်းများ စာရင်း | - ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည့် စက်ပစ္စည်းများနှင့် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများ စာရင်းကို ပူးတွဲ တင်ပြထားပါသည်။ |
| ၇။ | လုပ်သားအင်အား | - ပြည်တွင်း - ၆၅ ဦး<br>- ပြည်ပ - ၁ ဦး<br>( ပြည်တွင်းရှိ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၂,၇၀၀,၀၀၀ ဖြစ်ပါသည်။)<br>( ပြည်ပ ဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၄၅၀၀ ဖြစ်ပါသည်။) |
| ၈။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | (see table below) |
| ၉။ | ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - US$ ၄.၄၁ သန်း<br>- US$ ၁.၀၉ သန်း |
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- US$ ၀.၄၄ သန်း<br>- US$ ၀.၂၂ သန်း |
| ၁၁။ | အရင်းကြေကာလ | - (၈)နှစ် (၂)လ |
| ၁၂။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၅.၀၃ % |

| စဉ် | အမျိုးအစား | အရေအတွက် (ခန်း) | ဝန်ဆောင်ခနှုန်း (US$) |
|---|---|---|---|
| (က) | Deluxe | ၆၉ | ၁၅၀ |
| (ခ) | Presidential Suite | ၄ | ၂၅၀ |

| ၁၃။ | ငွေကြေးအထောက်အထား | - နိုင်ငံခြားငွေ အထောက်အထားအဖြစ် The Apple Tree Hospitality Pte., Ltd. အမည်ဖြင့် HSBC Bank ၌ (၃-၁၁-၂၀၁၅)နေ့စွဲရှိ ငွေလက်ကျန် US$ ၂၁၁၅၃၄.၉၇ ရှိကြောင်း နှင့် ကျပ်ငွေ အထောက်အထားအဖြစ် ဦးသန်းထူးကျော်၊ ဒေါ်စုစုတင်အမည်ဖြင့် AYA Bank ၌ (၃၀-၉-၂၀၁၅)နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၁၈၆၅၀၁၂၃၁.၈၆ ရှိကြောင်း တင်ပြထားပါသည်။ |
|---|---|---|
| ၁၄။ | လျှပ်စစ်ဓါတ်အား သုံးစွဲမှု | - ဓါတ်အားလုံလောက်မှု မရှိပါက ကိုယ်ပိုင်မီးစက် (630 KVA) Transformer-Dry Type(၁)လုံး၊ (630 KVA) Generator-50Hz (၁)လုံး နှင့် (630 KVA)Power Harmonizer (၁) လုံး တို့ဖြင့် အားဖြည့်ကာ လုပ်ငန်း လည်ပတ်သွား မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။ |
| ၁၅။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား ထည့်သွင်း ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ် တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၇။ | စိစစ်တင်ပြချက် | - ရန်ကုန်မြို့ရှိ ယခင် သွင်းကုန်ထုတ်ကုန်လုပ်ငန်း၏ ရုံးဟောင်း (၄)ထပ် အဆောက်အဦနှင့် ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်(၅)ရုံးဟောင်း၏ (၄)ထပ် အဆောက်အဦများအား နိုင်ငံတကာအဆင့်မီ ဟိုတယ်များအဖြစ် ပြောင်းလဲ ဆောင်ရွက်နိုင်ရေးအတွက် ကော်မရှင်မှ (၁၄-၆-၂၀၁၂)နေ့ထုတ် နိုင်ငံပိုင်သတင်းစာများတွင် တင်ဒါခေါ်ယူခဲ့ပြီး ယခင် ကုန်သွယ်ရေး ကော်ပိုရေးရှင်း အမှတ်(၅)ရုံးဟောင်းနေရာအား Apple Tree Co., Ltd. မှ တင်ဒါ အောင်မြင်ခဲ့ပါသည်။<br>- အဆိုပါ တင်ဒါအောင်မြင်ခဲ့သည့် Apple Tree Co., Ltd. မှ ဟိုတယ်လုပ်ငန်း ဆောင်ရွက် မည့် Yangon Excelsior Co., Ltd. အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်အား ကော်မရှင်မှ သဘောတူခဲ့ပြီး ဖြစ်ပါသည်။<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Yangon Excelsior Co., Ltd. တို့အကြား မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း စာချုပ်အား (၁၅-၉-၂၀၁၅)နေ့တွင် ချုပ်ဆိုခဲ့ပြီးဖြစ်ပါသည်။<br>- မြေနှင့်အဆောက်အဦ ပိုင်ဆိုင်ကြောင်း ထုတ်ပေးထားသည့် |

| | | |
|---|---|---|
| | | မြေဂရန်အမည်တွင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အမည် ပေါက် ရရှိထားပြီး ဖြစ်ပါသည်။<br>- Yangon Excelsior Hotel ၏ အရှေ့တွင် ကားရပ်နားရန် အကျယ် ပေ (၂၀၀) ကျော်ရှိပြီး မော်တော်ယာဥ်စီးရေ (၂၀)စီး ခန့်ရပ်နားနိုင်ပါကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ သဘောထား မှတ်ချက် နှင့်အညီ ကော်မရှင်မှ သက်ဆိုင်ရာ ဌာနများမှ ကျွမ်းကျင်သူ များနှင့် ကွင်းဆင်း စစ်ဆေးရေးအဖွဲ့ ဖွဲ့စည်း၍ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးခဲ့ပြီး ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၂/၂၀၁၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြလမ်းညွှန်မှု ခံယူထားပြီး ဖြစ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/န-၁၄၃ / ၂၀၁၆(၀၅၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၃ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Yangon Excelsior Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၄၃)(ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်-၅ ရုံးဟောင်း)တွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြခြင်း**

၁။ စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းထားသော Apple Tree Hospitality Pte., Ltd. မှ ၇၀% နှင့် မြန်မာ နိုင်ငံသား ဒေါ်စုစုတင် မှ ၃၀% ထည့်ဝင်၍ Yangon Excelsior Co., Ltd. အမည်နှင့် ဖက်စပ် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၄၃)၊ မြေဧရိယာ (အလျား ၂၀၂' ၁၁" x အနံ ၆၀' )ရှိ မြေကွက် နှင့် မြေပေါ်ရှိ ၄ထပ် အဆောက် အဦ(ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်းအမှတ်-၅ ရုံးဟောင်း)တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက် ခွင့်ပြု ပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်စုစုတင်မှ အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၅ ခုနှစ် နိုဝင်ဘာ လ ၃၀ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၅) အစည်း အဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Yangon Excelsior Co., Ltd. တို့ အကြားချုပ်ဆိုပြီးဖြစ်သည့် မြေငှားရမ်းခြင်း သဘောတူ စာချုပ် နှင့် စင်္ကာပူနိုင်ငံမှ Apple Tree Hospitality Pte., Ltd. နှင့် ဒေါ်စုစုတင် တို့အကြား ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း)တို့အား တင်ပြ ထားပါသည်။

၃။ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Yangon Excelsior Co., Ltd. တို့ချုပ်ဆိုထားသည့် မြေ နှင့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်အား ၁၅-၉-၂၀၁၅ နေ့တွင် ချုပ်ဆိုထားပြီး စာချုပ်ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေနှင့်အဆောက်အဦ ငှားရမ်းကာလမှာ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၁၅ ရက်နေ့ မှ ၂၀၆၅ ခုနှစ် စက်တင်ဘာလ ၁၄ ရက်နေ့အထိ နှစ်(၅၀)ဖြစ်သည်။

(ခ) သက်တမ်းတိုးမြှင့်ငှားရမ်းကာလမှာ နှစ်ဘက် သဘောတူညီမှု ရရှိပါက တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် နှစ်ကြိမ် တိုးမြှင့်နိုင်မည် ဖြစ်ပါသည်။

(ဂ) နှစ်စဉ် ငှားရမ်းခနှုန်းထားမှာ ဟိုတယ်စတင် ဖွင့်လှစ်သည့်နေ့ (သို့မဟုတ်)စာချုပ် ချုပ်ဆို သည့်နေ့မှ ၂၁ လပြည့်သည့်နေ့တွင် အမေရိကန်ဒေါ်လာ ၄၀၀,၀၀၀ အား နှစ်စဉ် ပေးသွင်း ရမည် ဖြစ်သည်။

(ဃ) မြေအသုံးချမှုပရီမီယံကြေးအဖြစ် US$ ၁,၃၀၀,၀၀၀၏ ၅၀ % ဖြစ်သော US$ ၆၅၀,၀၀၀ ကို စာချုပ် ချုပ်ဆိုသည့်နေ့တွင် ပေးချေရမည် ဖြစ်ပြီး ကျန် ၅၀ % ဖြစ်သော US$ ၆၅၀,၀၀၀ ကို လက်မှတ်ရေးထိုးပြီးချိန်မှစ၍ တစ်နှစ်အတွင်း ပေးသွင်းရမည် ဖြစ်သည်။

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်အပေါ် ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အညီ စာချုပ်ပါ အချက်များအား ပြင်ဆင် ချုပ်ဆိုထားခြင်း ဖြစ်ကြောင်း ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ (၂၇-၁-၂၀၁၆)ရက်စွဲပါ စာဖြင့် တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာမှာ ကော်မရှင်မှ တင်ဒါခေါ်ယူထားသည့် ကိုလိုနီခေတ်အဆောက်အဦ(၂)ခုအနက် (၁)ခု အပါအဝင်ဖြစ်ပြီး ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်(၅)နေရာအား Apple Tree Co., Ltd. မှ တင်ဒါအောင်မြင်ထားပြီး Yangon Excelsior Co., Ltd. အမည်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံလိုကြောင်း တင်ပြလာခြင်းအပေါ် (၃၀-၇-၂၀၁၅)နေ့စွဲပါ စာဖြင့် ခွင့်ပြု ကြောင်း အဆိုပြုချက် တင်ပြနိုင်ပါကြောင်း အကြောင်းကြားခဲ့ပြီး ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်ဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၁)နှစ် နှင့် ၉ လ ဖြစ်ပါသည်။

၇။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ US$ ၁၁.၄၀ သန်းဖြစ်ပြီး ၎င်းတွင် နိုင်ငံခြားမတည်ငွေရင်း US$ ၇.၉၈ သန်း (၇၀%) နှင့် နိုင်ငံသား မတည်ငွေရင်း US$ ၃.၄၂ သန်း (၃၀ %) တို့ ထည့်ဝင်ထားပါ သည်။ စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများ၊ လုပ်ငန်းသုံး ယာဉ်တန်ဖိုးများဖြစ်သည့် အမေရိကန်ဒေါ်လာ (၅.၇၁) သန်းဖိုး ကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီး မြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(US$ /သန်း)

| | မတည်ငွေရင်း | | စုစုပေါင်း |
|---|---|---|---|
| | နိုင်ငံသား | နိုင်ငံခြား | |
| Cash | ၃.၃၃ | ၂.၂၇ | ၅.၆၀ |
| Machinery & Equipment | - | ၁.၀၄ | ၁.၀၄ |
| Value of Furniture & Equipments | - | ၄.၀၄ | ၄.၀၄ |
| List of initial total supplies | - | ၀.၁၉ | ၀.၁၉ |
| Civil work materials | ၀.၀၉ | ၀.၄၄ | ၀.၅၃ |
| **စုစုပေါင်း** | ၃.၄၂ | ၇.၉၈ | ၁၁.၄၀ |

၈။ လုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှ ဝန်ထမ်း(၁)ဦး၊ ပြည်တွင်းမှ ဝန်ထမ်း(၁၉၉)ဦး စုစုပေါင်း(၂၀၀)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်ပဝန်ထမ်း(၁)ဦး၏ လစာမှာ US$ ၄၅၀၀ ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၇၀၀,၀၀၀ ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှု ပေးနိုင်မည့် အခြေအနေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက်(ခန်း) | ဝန်ဆောင်ခနှုန်း(US$) |
|---|---|---|---|
| (က) | Deluxe | ၆၉ | ၁၅၀ |
| (ခ) | Presidential Suite | ၄ | ၂၅၀ |

၁၀။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄.၄၁ |
| (ခ) | အသုံးစရိတ် | ၃.၃၂ |
| (ဂ) | အသားတင်အမြတ် | ၁.၀၉ |

၁၁။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ် လုပ်ငန်းခွန် US$(၀.၂၂)သန်း နှင့် ဝင်ငွေခွန် US$(၀.၄၄)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်း ကြေကာလမှာ (၈)နှစ်(၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၅.၀၃ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၂။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(၂) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၉၉)ဦး၊ ပြည်ပ လုပ်သားအင်အား (၁)ဦး၊ စုစုပေါင်း (၂၀၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သော ကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)၊မြေဧရိယာ (အလျား ၂၀၂' ၁၁" x အနံ ၆၀') ရှိ မြေကွက်နှင့်မြေပေါ်ရှိ ၄ထပ် အဆောက်အဦ(ယခင်ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်-၅ ရုံးဟောင်း)အား တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ (၄၀၀၀၀၀၀) (1 sqft = 32.854$, 1 sqm = 353.634$ ) နှုန်းဖြင့် ကနဦးငှားရမ်းကာလ (၅၀) နှစ် နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း၊

(၄) လုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါ ကြောင်း၊

(၅) အထက်ဖော်ပြပါအချက်များကြောင့် (၂၄-၁၂-၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ် သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၅၉/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ်(၆၂)အရ Yangon Excelsior Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါ ကြောင်း၊

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် စုစုပေါင်းအမြတ်ငွေ၏ (၂ %) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ် များနှင့် လုပ်ငန်း စီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်။

(၂) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင် အထည်မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ဆောင်ရွက်ရန် နှင့် IEE အစီရင်ခံစာ တင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်

လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည် ဖော် ဆောင်ရွက်ရန်။

**( ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား ၂၀၁၆ ခုနှစ် ဇူလိုင်လကုန်တွင် တင်ပြသွားမည်ဖြစ်ကြောင်း (၂၆-၁-၂၀၁၆)နေ့တွင် တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) လက်ရှိ အခြေအနေတွင် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များ အပါအဝင် နိုင်ငံခြားသား ခရီးသည်များ၏ ရေကြောင်း၊လေကြောင်းဖြင့် အဓိကဝင်ထွက်ရာ ဒေသဖြစ်ခြင်းကြောင့် Yangon Excelsior Co., Ltd. မှ အခန်းပေါင်း (၇၃) ခန်းပါ ဟိုတယ် တည်ဆောက်ခြင်း လုပ်ငန်းစီမံကိန်းသည် ခရီးသွားလုပ်ငန်းအတွက် အထောက်အကူပြုသော လုပ်ငန်းစီမံကိန်းတစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည် ရောက်ရှိမှု၊ ပြည်တွင်းခရီး ဧည့်သည်တည်းခိုမှု နှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ ဖွံ့ဖြိုးမှုတို့သည် အချိုးညီရန် လိုအပ်ပါကြောင်း။

(၂) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုများသည် (၇၀%) ပါဝင်သော ဟိုတယ်တစ်လုံးသည် သာမန် တိုက်ခန်းအကျယ်အဝန်းသာရှိသော (အလျား ၂၀၂' ၁၁" x အနံ ၆၀') (၀.၂၈)ဧကအတွင်း တည်ဆောက်မည်ဖြစ်ရာ ပြည်တွင်း တိုင်းရင်းသား လုပ်ငန်းရှင်များပင် ယင်းထက်မက လုပ်ကိုင်နိုင်သော အခြေအနေတွင် ၎င်းတို့အား ခွင့်ပြု သင့်/မသင့် ဦးစွာ စဥ်းစားသင့်ပါသည်။ နိုင်ငံခြား လုပ်ငန်းရှင်များကို အလတ်တန်းစား ဟိုတယ်များတွင် ရင်းနှီးလုပ်ကိုင် ခွင့်မပြုရန် ဟိုတယ်နှင့် ခရီးသွားလုပ်ငန်းရှင်များ၏ ဆွေးနွေးတင်ပြမှုလည်း ရှိပါကြောင်း။

(၃) ယခုအဆိုပြု တင်ပြလာသည့် မြေနေရာသည် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၇၃)၊ မြေဧရိယာ (အလျား ၂၀၂' ၁၁" x အနံ၆၀')ရှိ မြေကွက်နှင့်မြေပေါ်ရှိ ၄ထပ် အဆောက်အဦ (ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်းအမှတ်-၅ရုံးဟောင်း)အား နိုင်ငံတကာအဆင့်မီ ဟိုတယ်အဖြစ် ပြောင်းလဲ ဆောင်ရွက်ရန် ၂၀၁၄ ခုနှစ်တွင် တင်ဒါအောင်မြင်ခဲ့သည့် မြေနေရာဖြစ်သော်လည်း ဆောက် လုပ်ရေးဝန်ကြီးဌာန၏ စာရင်း၌ မြို့ပြ အမွေအနှစ်များ စာရင်းတွင် ဖော်ပြထားသည်ကို တွေ့ရှိရကြောင်း သိရှိရသဖြင့်

ရန်ကုန်မြို့တော်စည်ပင် သာယာရေး ကော်မတီ (သို့မဟုတ်) မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ မြေပုံ ရာဇဝင် အသေးစိတ်အား ပူးတွဲ တင်ပြပေးရန်နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ မြေရှင်ဟု အငှားချထားသည်ကို တွေ့ရှိရသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရ အဖွဲ့၏ ထောက်ခံစာတင်ပြရန် လိုအပ်ပါကြောင်း။

(၄) ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်း လိုင်စင်ဆိုင်ရာ အမိန့်တွင်ပါရှိသည့် ဟိုတယ်လုပ်ငန်းအတွက် အနည်းဆုံး လိုအပ်သည့် အခြေခံအချက်များတွင် ပါဝင်သော ဟိုတယ် တည်နေရာနှင့် အဆောက်အအုံ၊ သတ်မှတ်ချက်များ ဖြစ်သော ဘာသာရေး အဆောက်အအုံ၊ ဈေးနှင့် ကျောင်းစသည်တို့နှင့် လွတ်ကင်းပြီး ဟိုတယ်လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်သောနေရာတွင် ရှိရမည်ဖြစ်သည့်အပြင် ခွင့်ပြုမိန့် ဆက်လက် လျှောက်ထားရာ၌လည်း လိုအပ်လာမည့် ရှေ့နောက်ဘေးအိမ်များ၏ ကန့်ကွက်မှုမရှိခြင်းဟူသော အထောက်အထားရယူနိုင်ရန် ကြိုတင်စိစစ် ဆောင်ရွက် ထားရှိသင့်ပါကြောင်း။

(၅) Yangon Excelsior Co., Ltd. သည် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်းတွင်တည်ရှိကာ ဗိုလ်ဆွန်ပက်လမ်းသည် တစ်လမ်းတည်းမောင်းဖြစ်ပြီး ဝဲ၊ ယာ နှစ်ဖက်လုံး ယာဉ်ရပ်နားနိုင်သော လမ်း ဖြစ်၍ အခြားတစ်လမ်းမောင်း လမ်းသွယ်များကဲ့သို့ မဟုတ်ဘဲ မဟာဗန္ဓုလလမ်းကဲ့သို့ လမ်းကျယ်ဖြစ်ပြီး ဟိုတယ်ဝန်းအတွင်း၌ မတည်ရှိဘဲ ဟိုတယ်၏ အရှေ့လမ်းပေါ်တွင် ကားရပ်နားရန် အကျယ်ပေ (၂၀၀)ကျော်ရှိသဖြင့် ကားအရေအတွက် ၂၀ စီးခန့် ရပ်နားနိုင်ကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါကြောင်း။

(၆) အခန်းခနှုန်းထားများတွင် Deluxe Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၅၀)၊ Presidential Suite(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၂၅၀) စသည်ဖြင့် အခန်းခ ဈေးနှုန်းများ သတ်မှတ်ထားသဖြင့် ငှားရမ်းခ နှုန်းထား များနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါကြောင်း။

(၇) Yangon Excelsior Co., Ltd. မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ပြည်ပ မှ တင်သွင်းမည့် တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ နှင့်ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာ ရယူရမည် ဖြစ်ပါကြောင်း။

(၈) မြေဧရိယာကျဉ်းမြောင်းသော အနေအထား၊ ရေဆိုးစွန့်ပစ်မှုစနစ်၊ ယာဉ်ရပ်နားရန် နေရာထည့်သွင်း တည်ဆောက်ခြင်းတို့အပါအဝင် မြေပြင် အနေ

အထားအား အဆိုပြုလွှာစစ်ဆေးရေးအဖွဲ့မှ ကွင်းဆင်းစစ်ဆေးပြီးမှသာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်အစည်းအဝေးသို့ တင်ပြသင့်ကြောင်း ။

**( ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကော်မရှင်မှ သက်ဆိုင်ရာ ဌာနများမှ ကျွမ်းကျင်သူများနှင့် ကွင်းဆင်းစစ်ဆေးရေး အဖွဲ့ ဖွဲ့စည်း၍ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးခဲ့ပြီး ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏(၂/၂၀၁၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြလမ်းညွှန်မှု ခံယူထားပြီး ဖြစ်ပါသည်။)**

၁၃။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် The Apple Tree Hospitality Pte., Ltd. အမည်ဖြင့် HSBC Bank ၌ (၃-၁၁-၂၀၁၅)နေ့စွဲရှိ ငွေလက်ကျန် US$ ၂၁၁၅၃၄.၉၇ ရှိကြောင်း နှင့် ကျပ်ငွေ အထောက်အထားအဖြစ် ဦးသန်းထူးကျော်၊ ဒေါ်စုစုတင်အမည်ဖြင့် AYA Bank ၌ (၃၀-၉-၂၀၁၅) နေ့စွဲရှိ ငွေလက်ကျန် ကျပ် ၁၈၆၅၀၁၂၃၁.၈၆ ရှိကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းသည် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဉ်၊ မီးဘေးအန္တရာယ်မဖြစ်ပွားစေရေးအတွက် လိုအပ်သော အစီအမံများနှင့် ဝန်ထမ်းများ၏ ဝင်ငွေခွန်အား ကုမ္ပဏီမှ ပေးဆောင်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရေးအတွက် ဆောင်ရွက် ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ကုမ္ပဏီမှ CSR(Corporate Social Responsibility)အတွက် နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို သုံးစွဲရန် လျာထားပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ လုပ်ငန်းဆောင်ရွက်ရာတွင် ပုံမှန်လျှပ်စစ်ဓါတ်အားကိုသုံးစွဲမည်ဖြစ်ပြီး ဓါတ်အားလုံလောက်မှု မရှိပါက ကိုယ်ပိုင်မီးစက် (630 KVA)Transformer-Dry Type(၁)လုံး၊ (630 KVA)Generator-50Hz (၁)လုံး နှင့် (630 KVA)Power Harmonizer (၁)လုံးတို့ဖြင့် အားဖြည့်ကာ လုပ်ငန်းလည်ပတ်သွား မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။ မီးဘေးကြိုတင်ကာကွယ်ထားရှိမှု အစီအစဉ်များလည်း ဆောင်ရွက်ထားရှိမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) ရန်ကုန်မြို့ရှိ ယခင် သွင်းကုန်ထုတ်ကုန်လုပ်ငန်း၏ ရုံးဟောင်း(၄)ထပ် အဆောက်အဦနှင့် ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်(၅)ရုံးဟောင်း၏ (၄)ထပ် အဆောက်အဦများအား နိုင်ငံတကာအဆင့်မီ ဟိုတယ်များအဖြစ် ပြောင်းလဲ ဆောင်ရွက်နိုင်ရေးအတွက် ကော်မရှင်မှ (၁၄-၆-၂၀၁၂)နေ့ထုတ် နိုင်ငံပိုင် သတင်းစာများတွင် တင်ဒါခေါ်ယူခဲ့ပြီး ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်(၅)ရုံးဟောင်းနေရာအား Apple Tree Co., Ltd. မှ တင်ဒါ အောင်မြင်ခဲ့ပါသည်။

(ခ) အဆိုပါ တင်ဒါအောင်မြင်ခဲ့သည့် Apple Tree Co., Ltd. မှ ဟိုတယ်လုပ်ငန်း ဆောင်ရွက်မည့် Yangon Excelsior Co., Ltd. အမည်ဖြင့် ပြောင်းလဲ ဆောင်ရွက်ခွင့်အား ကော်မရှင်မှ သဘောတူခဲ့ပြီး ဖြစ်ပါသည်။

(ဂ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Yangon Excelsior Co., Ltd. တို့အကြား မြေနှင့် အဆောက်အဦ ငှားရမ်းခြင်းစာချုပ်အား (၁၅-၉-၂၀၁၅)နေ့တွင် ချုပ်ဆိုခဲ့ပြီး ဖြစ်ပါသည်။

(ဃ) မြေနှင့်အဆောက်အဦ ပိုင်ဆိုင်ကြောင်း ထုတ်ပေးထားသည့် မြေဂရန်အမည်တွင် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အမည်ပေါက် ရရှိထားပြီး ဖြစ်ပါသည်။

(င) Yangon Excelsior Hotel ၏ အရှေ့တွင် ကားရပ်နားရန် အကျယ် ပေ (၂၀၀) ကျော်ရှိပြီး မော်တော်ယာဉ်စီးရေ (၂၀)စီး ခန့်ရပ်နားနိုင်ပါကြောင်း တင်ပြထားပါသည်။

(စ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ကော်မရှင်မှ သက်ဆိုင်ရာ ဌာနများမှ ကျွမ်းကျင်သူများနှင့် ကွင်းဆင်း စစ်ဆေးရေး အဖွဲ့ ဖွဲ့စည်း၍ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၂ ရက်နေ့တွင် ကွင်းဆင်း စစ်ဆေးခဲ့ပြီး ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၂/၂၀၁၆) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြလမ်းညွှန်မှု ခံယူထားပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ Yangon Excelsior Co., Ltd. အမည်နှင့် ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၄၃)၊ မြေဧရိယာ (အလျား ၂၀၂' ၁၁" x အနံ ၆၀' )ရှိ မြေကွက် နှင့် မြေပေါ်ရှိ ၄ထပ် အဆောက်အဦ (ယခင် ကုန်သွယ်ရေး ကော်ပိုရေးရှင်းအမှတ်-၅ ရုံးဟောင်း)တွင် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| ၁။ | Yangon Excelsior Co., Ltd. | (၁)Apple Tree Hospitality Pte., Ltd.<br>(Represent By)<br>Mr. Eric Jean Bernard Merlin<br>French<br>13FV17600 | 19 Nguyen Van Huong, Thao Dien Quan 2, Ho Chi Minh, Vietnam. |
| | | (၂)Mr. Jean-Marc Martial Merlin<br>French<br>13AF51529 | 5 Square Alfred Dehodencq 75116 Paris, France. |
| | | (၃)Daw Su Su Tin<br>Myanmar<br>12/Ba Ha Na(N)039391 | No.(12), Nagayone Pagoda Road, Mayangone Township, Yangon. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ဖက်စ်နံပါတ် - ၀၉-၅၀၇၀၈၈၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်စုစုတင်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် -

DG 6/1/1 ဒုဒ 1/1.1.16

နောက်ဆက်တွဲ (က)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၃၀ ရက်

M3-1321 31/12

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၄/ န-၀၄၃/၂၀၁၅(၉၇၈)

၁။ စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းထားသော Apple Tree Hospitality Pte. Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံသား ဒေါ်စုစုတင် မှ ၃၀% ထည့်ဝင်ပြီး Yangon Excelsior Co., Ltd. တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)၊ မြေဧရိယာ(အလျား ၂၀၂'၁၁" ×အနံ ၆၀')ရှိ မြေကွက်နှင့် မြေပေါ်ရှိ (၄)ထပ်အဆောက်အဦ (ယခင်ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်-၅ ရုံးဟောင်း)တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၁၉၉)ဦး၊ ပြည်ပလုပ်သားအင်အား(၁)ဦး စုစုပေါင်း(၂၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)၊ မြေဧရိယာ(အလျား ၂၀၂'၁၁" ×အနံ ၆၀')ရှိ မြေကွက်နှင့် မြေပေါ်ရှိ (၄)ထပ်အဆောက်အဦ (ယခင်ကုန်သွယ်ရေးကော်ပိုရေးရှင်း အမှတ်-၅ ရုံးဟောင်း)အား တစ်နှစ်ငှားရမ်းခ အမေရိကန်ဒေါ်လာ(၄၀၀၀၀၀)(1 sqft = 32.854 \$, 1 sqm = 353.634 \$) နှုန်းဖြင့် ကနဦးငှားရမ်းကာလ(၅၀)နှစ်နှင့် သက်တမ်းတိုး(၁၀)နှစ် (၂)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်း အပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၄. ၁၂. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၉/ ၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၂)အရ Yangon Excelsior Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ပန်းဘဲတန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Yangon Excelsior Co., Ltd.
လက်ခံစာတွဲ
မျှော့စာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၄၃) / စိုက်မွေး
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **ရှေးဟောင်းလက်ရာ အဆောက်အအုံစာရင်း ဝင်-မဝင် ပြန်ကြားပေးပါရန် ကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(အဆိုပြုချက်စိစစ်ရေးအဖွဲ့)၏ (၉. ၁၂. ၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၄/ န-၀၄၃/ ၂၀၁၅(၉၆၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)ရှိ မြေကွက်နှင့် မြေပေါ်ရှိ (၄)ထပ်အဆောက်အဦတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဒေါ်စုစုတင်မှ အဆိုပြုတင်ပြခြင်းကို အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၅)အစည်းအဝေး ဆုံးဖြတ်ချက်အရ "ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် အဆိုပြုမြေကွက်ရှိ အဆောက်အဦအား ရှေးဟောင်းလက်ရာ အဆောက်အအုံစာရင်း ဝင်-မဝင် စစ်ဆေးပေးရန်" ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်ပြန်ကြားအပ်ပါသည်-

(က) ယဉ်ကျေးမှုဝန်ကြီးဌာနအနေဖြင့် Colonical Building (ကိုလိုနီခေတ်အဆောက်အအုံ)များကို ရှေးဟောင်းအဆောက်အအုံ စာရင်းဝင်အဖြစ် မထိန်းသိမ်းပါကြောင်း၊

(ခ) မြန်မာ့ကုန်တိုက်ရုံးချုပ်ဟောင်းအဆောက်အဦအား ရှေးဟောင်းလက်ရာ အဆောက်အအုံအဖြစ် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ သတ်မှတ်ထားရှိမှုအား (၃၀. ၅. ၁၉၉၆)ရက်နေ့ သတင်းစာတွင်ကြေညာထားပါကြောင်း။

ပူးတွဲ - သတင်းစာကြော်ငြာမိတ္တူ(၁)ရွက်

ဝန်ကြီးချုပ် (ကိုယ်စား)
( စိုးမင်း၊ တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး )

**မိတ္တူကို**

ယဉ်ကျေးမှုဝန်ကြီးဌာန၊ နေပြည်တော်
~~ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ~~
အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
လက်ခံစာတွဲ/မျှောစာတွဲ

# ရှေးဟောင်းလက်ရာအဆောက်အအုံများ သတ်မှတ်ခြင်းကြေညာချက်

၁။ ရန်ကုန်မြို့တော်စည်ပင်သာယာရေးနယ်နိမိတ်အတွင်းရှိ အောက်ဖော်ပြပါအဆောက်အအုံများကို ရှေးဟောင်းလက်ရာအဆောက်အအုံများအဖြစ် သတ်မှတ်လိုက်ပါသည် -

| | | | |
|---|---|---|---|
| ၁။ | မဂိုရှီအဟ်မဂျစ်ဗလီ | အမှတ်(၉၁)၊ လမ်း ၃၀ | ပန်းဘဲတန်း |
| ၂။ | ရှရီဆတ်(တ)နာရာယန်(န) ဟိန္ဒူဘုရားကျောင်း | အမှတ်(၂၃)၊ ၂၉ လမ်း | ပန်းဘဲတန်း |
| ၃။ | စူရ်တီစွန်နီဂျာမေဗလီ | အမှတ်(၁၄၉)၊ရွှေဘုံသာလမ်း | ပန်းဘဲတန်း |
| ၄။ | မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း ဆက်သွယ်ရေးငွေစာရင်း ဌာန (ယခင် ဒီဇူဇာ) | အမှတ်(၄၆၅/၄၆၉)၊မဟာဗန္ဓုလ လမ်း | ပန်းဘဲတန်း |
| ၅။ | မြန်မာ့ကုန်တိုက်ရုံးချုပ် | အမှတ်(၁၉/၄၃)၊ ဗိုလ်ဆွန်ပက်လမ်း | ပန်းဘဲတန်း |
| ၆။ | နရ်စာပူရီဗလီ(ဗိုယ်းကျုဗလီ) | အမှတ်(၂၈၁)၊ရွှေဘုံသာလမ်း | ပန်းဘဲတန်း |
| ၇။ | စရီဂျိန်ဘာသာရေး ရွှေတာမ်ဘရ်ဘုရားကျောင်း | အမှတ်(၇၆/၇၈)၊ ၂၉ လမ်း | ပန်းဘဲတန်း |
| ၈။ | မြန်မာ့စိုက်ပျိုးရေးနှင့် ကျေးလက်ဖွံ့ဖြိုးရေးဘဏ် | အမှတ်(၅၂၆/၅၃၂)၊ကုန်သည်လမ်း | ကျောက်တံတား |
| ၉။ | ဆူးလေစေတီတော် | ဆူးလေဘုရားလမ်း | ကျောက်တံတား |
| ၁၀။ | ဘန်ဂါလီစွန္နီဂျာမေဗလီဝတ် ကျောင်းတော် | အမှတ်(၉၃)၊ဆူးလေဘုရားလမ်း | ကျောက်တံတား |
| ၁၁။ | စူရတီစွန္နီဂျာမေဗလီ (ကွမ်းခြံဗလီ) | အမှတ်(၂၂၄/၂၂၈)၊ ၃၅ လမ်း | ကျောက်တံတား |

ဆက်လက်ဖော်ပြပါမည်။

၂။ အထက်ဖော်ပြပါ ရှေးဟောင်းလက်ရာပါအဆောက်အအုံများကို ပုံစံပြောင်းလဲ ပြင်ဆင်ခြင်း၊အသစ်ပြောင်းလဲဆောက်လုပ်ခြင်းတို့အား လုံးဝခွင့်ပြုမည်မဟုတ်ပါ။အကယ်၍ ခိုင်ခံ့မှုမရှိသဖြင့် ပြင်ဆင်လိုပါက အဆောက်အအုံ၏ ပြင်ပအစိတ်အပိုင်းများအား မူလပုံစံမပျက်စေဘဲ ပြင်ဆင်ခွင့်ပြုမည်ဖြစ်ပြီး အတွင်းပိုင်းကိုမူ ခိုင်ခံ့မှုရှိစေရေးအတွက် အားဖြည့်မွမ်းမံပြင်ဆင်ခွင့်ပြုမည်ဖြစ်ပါသည်၊ပြင်ဆင်ခွင့်ကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊အင်ဂျင်နီယာဌာန(အဆောက်အအုံ)မှ စိစစ်ခွင့်ပြုမည်ဖြစ်ပါသည်။

၃။ လိုက်နာဆောင်ရွက်ခြင်းမရှိပါက တည်ဆဲဥပဒေအရ အရေးယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

ရက်စွဲ ။ ၃၀-၅-၉၆
နေရာ ။ မြို့တော်ခန်းမ၊ ရန်ကုန်မြို့

(က) လမ်းမတော်မြို့နယ်
(၁) အမှတ် (၆၀/၆၂) ၁၄...
(၂) အမှတ် (၁၄၁) ၁၅လ...
(၃) အမှတ် (၃၃/၃၅) ၁၆...
(၄) အမှတ် (၆၇) ဝါးတန်း...
(၅) အမှတ် (၇၁) ဝါးတန်း...
(ခ) ဗိုလ်တထောင်မြို့နယ်
(၁) အမှတ် (၆၆/၇၀) ၄၂...

၂။ အထက်ပါအန္တရာယ်ရှိအဆောက်... လုပ်ရန်စီစဉ်လျက်ရှိပါ၍ မြေပိုင်ဆိုင်မှုရှိသူ... မှုရင်း(၁)နှင့် မိတ္တူ(၂)စုံတို့ဖြင့်လည်းကောင်း၊ ... များသည် ကန့်ကွက်ရသည့်အကြောင်း ခိုင်... ကောင်း မြို့တော်ခန်းမရှိ အင်ဂျင်နီယာဌာန... နောက်ဆုံးထား၍ လာရောက်ဆက်သွယ်...

DDG 149
29/1

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ် ... ရက်စွဲ ... ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၂၇ ရက်

သို့

M3- 199
28/

√မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **ဥပဒေအကြံပြုချက်အား ပေးပို့ခြင်းကိစ္စ**

P-137
28.1.16

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(အဆိုပြုချက်စိစစ်ရေးအဖွဲ့)၏ (၉. ၁၂. ၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၄/ န-၀၄၃/ ၂၀၁၅(၉၆၄)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)ရှိ မြေကွက်နှင့် မြေပေါ်ရှိ (၄)ထပ်အဆောက်အဦတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဒေါ်စုစုတင်မှ အဆိုပြုတင်ပြခြင်းကို အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၅)အစည်းအဝေး ဆုံးဖြတ်ချက်အရ "ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အား တင်ပြရန်" ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Yangon Excelsior Co., Ltd. တို့အကြားချုပ်ဆိုမည့် ကုန်သွယ်ရေးကော်ပိုရေးရှင်း(၅) အဆောက်အဦအား နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း လုပ်ကိုင်ရန် ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ရန်ကုန်တိုင်းဒေသကြီး ဥပဒေချုပ်ရုံးသို့ အကြံပြုပြန်ကြားလာမှုအား ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံးမှ (၉. ၉. ၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၁၂(၃) ၅/၁(၂၇၉၈)ဖြင့် ပေးပို့လာသည့် ဥပဒေအကြံပြုချက်မိတ္တူ (၁)စောင်အား ဤစာနှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

ပူးတွဲ - (၄)ရွက်

ဝန်ကြီးချုပ် (ကိုယ်စား)
( ကျော်စိုး၊ တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး )

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(S)..(70)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

## ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံး

## ရန်ကုန်မြို့

စာအမှတ်၊ ၁၂ ( ၃ ) ၅ / ၁ ( ၂၅၉၈ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ( ၉ )ရက်။

သို့

တိုင်းဒေသကြီးအစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Yangon Excelsior Co.,Ltd တို့ အကြား ချုပ်ဆိုမည့် ကုန်သွယ်ရေးကော်ပိုရေးရှင်း (၅) အဆောက်အဦအား နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း လုပ်ကိုင်ရန် ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။

(၁) ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်၏ ၁၀.၈.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၂ (၅) ၃ – ၁၃၉/ နပတ (၈၇၁)

(၂) ရန်ကုန်တိုင်းဒေသကြီး ဥပဒေချုပ်ရုံး၏ ၁၉.၈.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၁၂ (၃) ၁ / ၅ (၂၂၃၆)

(၃) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၇.၈.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃/၆– ၃(၄၂)/စိုက်မွေး

၁။ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်–၁၉/၄၃၁ ရှိ ကုန်သွယ်ရေးကော်ပိုရေးရှင်း (၅) ရုံးဟောင်းအား နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်အတွက် တင်ဒါအောင်မြင်သည့် Yangon Excelsior Co.,Ltd နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့တို့အကြား ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရည်ညွှန်းချက် (၃)ပါစာဖြင့် မေတ္တာရပ်ခံလာခြင်းအပေါ် ရန်ကုန်တိုင်းဒေသကြီး ဥပဒေချုပ်ရုံးမှ ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် ဆက်လက်ပေးပို့တင်ပြခဲ့ရာ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြံပြုပြန်ကြားလာသည့်ကိစ္စ ဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော စာချုပ်(မူကြမ်း)အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း)စာချုပ်ဝင်များစာပိုဒ်ကို ပုံစံကျနမှုရှိစေရန် ပြင်ဆင်ရေးသားပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏ခေါင်းစဉ်တွင် မြေနှင့်အဆောက်အဦအား နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း လုပ်ကိုင် ငှားရမ်းခြင်းဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ငှားရမ်းသည့်မြေပေါ်တွင် (၄)ထပ် အဆောက်အဦပါဝင်သည့်အတွက် အဆိုပါအဆောက်အဦအား ဟိုတယ်အဖြစ် ပြောင်းလဲမည် သို့မဟုတ် နိုင်ငံတကာအဆင့်မီ ဟိုတယ်အသစ် ဆောက်လုပ်မည်တို့နှင့် စပ်လျဉ်း၍ ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၂ တွင်အငှားချထားသည့်ပစ္စည်းမှာ မြေဧရိယာ (အလျား ၂၀၂ ပေ ၁၁ လက်မ × အနံ ၆၀ ပေ) ရှိသည့် မြေကွက်နှင့် မြေကွက်ပေါ်ရှိ (၄)ထပ် အဆောက်အဦ ဖြစ်ကြောင်း ဖော်ပြထားသဖြင့် စာချုပ်ခေါင်းစဉ်အား မြေနှင့်အဆောက်အဦငှားရမ်းသည့် စာချုပ် ဟု ပြင်ဆင်ပေးလိုက်ပါသည်။ ဌာနမှ ပြန်လည်စိစစ်ချုပ်ဆိုသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၁ နှင့် ၂ တွင် အငှားချထားသူ (ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့)သည် ကုန်သွယ်ရေးကော်ပိုရေးရှင်း(၅) အဆောက်အဦကို တရားဝင်ငှားရမ်းပိုင်ခွင့်ရှိကြောင်းသာ ဖော်ပြ ထားပြီး တရားဝင်ပိုင်ဆိုင်ကြောင်း ဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသည်။ သို့ပါ၍ အဆိုပါ ကုန်သွယ်ရေးကော်ပိုရေးရှင်း(၅) အဆောက်အဦကို မည်သူ သို့မဟုတ် မည်သည့်ဌာန/ အဖွဲ့အစည်းက တရားဝင်ပိုင်ဆိုင်ကြောင်း၊ ယင်းပိုင်ဆိုင်သူမှ ငှားရမ်းခွင့်ပြုကြောင်း အထောက်အထားများကို စာချုပ်တွင် စာရွက်စာတမ်းအထောက်အထားများနှင့်တကွ ပူးတွဲ ဖော်ပြရန် လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ညွှန်းထားသော နောက်ဆက်တွဲ (က) သည်လည်းကောင်း၊ အပိုဒ် ၁၈ တွင် ရည်ညွှန်းထားသော မြေပုံသည်လည်းကောင်း၊ စာချုပ်(မူကြမ်း)၌ ပူးတွဲပါရှိလာခြင်း မရှိကြောင်း တွေ့ရှိရပါသည်။ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သော ကြောင့် စာချုပ်ချုပ်ဆိုချိန်တွင် နောက်ဆက်တွဲများကို ပြည့်စုံစွာ ပူးတွဲဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် အငှားချထားသည့် မြေ၏ မြေပုံနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ မြေစာရင်းဦးစီးဌာနက တရားဝင်ရေးဆွဲသော မြေပုံဖြစ်ရန် လိုအပ်ပါသည်။

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၃ ငှားရမ်းမည့် အချိန်ကာလခေါင်းစဉ်အောက်တွင် ငှားရမ်းကာလနှင့် စာချုပ်သက်တမ်းအား ရောထွေးစွာ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ ငှားရမ်းချိန်ကာလနှင့် စာချုပ်သက်တမ်းအား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန် လိုအပ်ပါသည်။ ဌာနမှ ပြန်လည်စိစစ်သင့်

ပါသည်။

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၄ ငှားရမ်းခနှုန်းထား ခေါင်းစဉ်အောက်တွင် ငှားရမ်းခကို နိုင်ငံတကာ အဆင့်မီ ဟိုတယ်အဖြစ် တရားဝင် စတင်ဖွင့်လှစ်သည့်နေ့မှစ၍ တွက်ချက်ထားရာ ဟိုတယ်စတင်မဖွင့်လှစ်နိုင်ပါက ငှားရမ်းခ မရရှိနိုင်မည်ကို ထည့်သွင်းစဉ်းစားရန် လိုအပ်ပါသည်။ သို့ဖြစ်ပါ၍ ငှားရမ်းခ စတင်ပေးချေမည့်အချိန်ကာလအား တိကျစွာ ဖော်ပြသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၅ တွင် မြေအသုံးချမှုပရိမီယံကြေးပေးချေခြင်းနှင့် စပ်လျဉ်း၍ ကျန် ၅၀% ဖြစ်သည့် ၀.၆၅ သန်းကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၁)နှစ်အတွင်း လေးလလျှင် တစ်ကြိမ်ပေးရမည်ဖြစ်ကြောင်း ဖော်ပြထားရာ အဆိုပါ သတ်မှတ်သည့်ကာလအတွင်း ပေးချေခြင်းမပြုပါက ဒဏ်ကြေးမည်မျှ ပေးဆောင်ရမည် သို့မဟုတ် မည်သို့ ဆောင်ရွက်ရမည် ဆိုသည့် စည်းကမ်းချက်အား ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၇(င) တွင် အငှားချထားသည့် အဆောက်အဦအား တပ်ဆင်မှု၊ ပုံစံပြောင်းလဲမှု၊ ပြုပြင်မွမ်းမံပြင်ဆင်မှုများကို ပြုလုပ်မည်ဖြစ်ကြောင်း ဖော်ပြထားရာ အဆိုပါ ပြောင်းလဲမည့်ပုံစံအား စာချုပ်(မူကြမ်း)တွင် နောက်ဆက်တွဲအဖြစ် ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၈ အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ၌ ဌာနမှ ဆောင်ရွက်ပေးရမည့် ကိစ္စများတွင် အခြားဝန်ကြီးဌာနများနှင့် သက်ဆိုင်သည့်ကိစ္စရပ်များ ပါရှိနေရာ ဌာနအနေဖြင့် သက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင် ညှိနှိုင်း ဆောင်ရွက်ထားသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၁၁ စာချုပ်ရပ်စဲခြင်းတွင် အပိုဒ် (ခ) နှင့် အပိုဒ် (စ) မှာ တူညီနေသည်ဟု ယူဆပါသဖြင့် ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ အငြင်းပွားမှုဖြေရှင်းစာပိုဒ်အား ဆောင်ရွက်မှု လွယ်ကူစေရန် ပြင်ဆင် ရေးသားလိုက်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) ပါ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာ ဖြည့်စွက်ထားပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ဎ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာ ကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၆။ Yangon Excelsior Co.,Ltd သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေနှင့်အညီ တရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ် စသည်တို့အတွက် သက်ဆိုင်ရာ စာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ (၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၈။ ဤအကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

အမိန့်အရ

(ခင်မောင်မောင်၊ ဥ/၁၄၇၀)

တိုင်းဒေသကြီးဥပဒေအရာရှိ

မိတ္တူကို-

ဥပဒေချုပ်ရုံးခန်း၊ ရန်ကုန်တိုင်းဒေသကြီးဥပဒေချုပ်ရုံး

ရုံးအဖွဲ့မှူး၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ

နောက်ဆက်တွဲ(ခ)


ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး


NPG-5706
22.12.15

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/( ၃၇၀၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

သို့
✓မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

PB-1288
23/12

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀ - ၁၂ - ၂၀၁၅ ရက်စွဲပါစာ အမှတ်၊ ရက - ၄ / န - ၀၄၃ / ၂၀၁၅ (၉၇၇)

၁။ စင်ကာပူနိုင်ငံတွင် ဖွဲ့စည်းထားသော Apple Tree Hospitality Pte.Ltd. မှ ၇၀ %၊ မြန်မာနိုင်ငံသား ဒေါ်စုစုတင် မှ ၃၀ % ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Yangon Excelsior Co., Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ အမှတ်(၁၉/၄၃)၊ မြေဧရိယာ (အလျား၂၀၂' ၁၁"×အနံ ၆၀') မြေကွက် နှင့် မြေပေါ်ရှိ ၄ ထပ်အဆောက်အဦ ( ယခင် ကုန်သွယ်ရေးကော်ပိုရေးရှင်းအမှတ် - ၅ ရုံးဟောင်း ) တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး ၊ မိလ္လာရေဆိုးများအား စနစ်တကျ စွန့်ပစ်ခြင်း မပြုဘဲ ပတ်ဝန်းကျင်ရှိ မြစ် / ချောင်း / အိုင်များ အတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက မြေထု နှင့် ရေထု ညစ်ညမ်းနိုင်ခြင်း ၊ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများဖြစ်သည့် စားသောက်ခန်း ၊ ဘား ၊ မီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက် အညစ်အကြေးများ ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန် အချိန်ကြာမြင့်သည့် ပလတ်စတစ် နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များအား စနစ်တကျ မစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Yangon Excelsior Co., Ltd. မှ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု ( CSR ) လုပ်ငန်းများအတွက် စုစုပေါင်း

အမြတ်ငွေ၏ ( ၂ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ နှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊လူမှုရေး နှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများလျော့နည်းစေရန်အတွက် လုပ်ငန်းအကောင် အထည် မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ရန် နှင့် IEE အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင် အထည်ဖော် ဆောင်ရွက်ရန်။

၁၈/၁၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ (ဂ)

I 2 28/12/15



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၃၇၉၈
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၂၂ ရက်။

MPI 5785 23.12.15

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M3 796 24/12

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀-၁၂-၂၀၁၅) ရက်စွဲပါ စာအမှတ် ရက-၄/န-၀၄၃/၂၀၁၅ (၉၇၆)

၁။ စင်္ကာပူနိုင်ငံတွင် ဖွဲ့စည်းထားသော Apple Tree Hospitality Pte.Ltd မှ ၇၀%နှင့် မြန်မာနိုင်ငံသား ဒေါ်စုစုတင်မှ ၃၀% ထည့်ဝင်ပြီး Yangon Excelisor Co.,Ltd.တည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ပန်းဘဲတန်းမြို့နယ်၊ဗိုလ်ဆွန်ပက်လမ်း၊ အမှတ်(၁၉/၄၃)၊မြေဧရိယာ (အလျား ၂၀၂' ၁၁"x အနံ၆၀' )ရှိ မြေကွက်နှင့် မြေပေါ်ရှိ ၄ထပ်အဆောက်အဦ (ယခင်ကုန်သွယ်ရေးကော်ပိုရေးရှင်းအမှတ်-၅ရုံးဟောင်း)တွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါ်စုစုတင်မှ အဆိုပြုချက်တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များအပါအဝင် နိုင်ငံခြားသားများ၏ရေကြောင်း၊လေကြောင်းဖြင့် အဓိကဝင်ထွက်ရာ ဒေသဖြစ်ခြင်းကြောင့် Yangon Excelisor Co.,Ltd.မှအခန်းပေါင်း(၇၃)ခန်းပါဟိုတယ်တည်ဆောက်ခြင်းလုပ်ငန်းစီမံကိန်းသည်ခရီးသွားလုပ်ငန်းအတွက်အထောက်အကူပြုသော လုပ်ငန်းစီမံကိန်းတစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည်ရောက်ရှိမှု၊ ပြည်တွင်းခရီးဧည့်သည်တည်းခိုမှုနှင့်ဟိုတယ်နှင့်တည်းခိုးရိပ်သာဖွံ့ဖြိုးမှုတို့သည်အချိုးညီရန်လိုအပ်ပါသည်။

၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု(၇၀%)ပါဝင်သော ဟိုတယ်တစ်လုံးသည် သာမန်တိုက်ခန်းအကျယ်အဝန်းသာရှိသော(အလျား ၂၀၂'၁၁" x အနံ၆၀')(၀.၂၈)ဧကအတွင်းတည်ဆောက်မည်ဖြစ်ရာ ပြည်တွင်း

တိုင်းရင်းသားလုပ်ငန်းရှင်များပင် ယင်းထက်မက လုပ်ကိုင်နိုင်သော အခြေအနေတွင် ၎င်းတို့အား ခွင့်ပြုသင့်/မသင့် ဦးစွာ စဉ်းစားသင့်ပါသည်။ နိုင်ငံခြားလုပ်ငန်းရှင်များကို အလတ်တန်းစား ဟိုတယ် များတွင် ရင်းနှီးလုပ်ကိုင်ခွင့်မပြုရန် ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းရှင်များ၏ ဆွေးနွေးတင်ပြမှုလည်းရှိပါ သည်။

၄။ ယခုအဆိုပြု တင်ပြသည့်မြေနေရာသည် ရန်ကုန်တိုင်းဒေသကြီး၊ ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်း၊ အမှတ် (၁၉/၄၃)၊မြေဧရိယာ (အလျား ၂၀၂'၁၁"× အနံ၆၀')ရှိ မြေကွက်နှင့် မြေပေါ်ရှိ (၄)ထပ်အဆောက်အဦအား နိုင်ငံတကာအဆင့်မီဟိုတယ်အဖြစ် ပြောင်းလဲဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ခုနှစ်တွင်တင်ဒါအောင်မြင်ခဲ့သည့်မြေနေရာဖြစ်သော်လည်းဆောက်လုပ်ရေးဝန်ကြီးဌာန၏ စာရင်း၌မြို့ပြအမွေအနှစ်များစာရင်းတွင် ဖော်ပြထားသည်ကို တွေ့ရှိရကြောင်းသိရှိရသဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ (သို့မဟုတ်) မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ မြေပုံ ရာဇဝင်အသေးစိတ်အား ပူးတွဲတင်ပြပေးရန်နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ မြေရှင်ဟု အဌားချထားသည်ကို တွေ့ရှိရသဖြင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ထောက်ခံစာတင်ပြရန် လိုအပ်ပါသည်။

၅။ ဟိုတယ်နှင့်တည်းခိုးရိပ်သာလုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်တွင်ပါရှိသည့် ဟိုတယ်လုပ်ငန်းအတွက် အနည်းဆုံးလိုအပ်သည့်အခြေခံအချက်များတွင်ပါဝင်သော ဟိုတယ်တည်နေရာနှင့် အဆောက်အအုံ၊သတ်မှတ်ချက်များဖြစ်သောဘာသာရေးအဆောက်အအုံ၊ဈေးနှင့် ကျောင်းစသည်တို့နှင့် လွတ်ကင်းပြီးဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်သင့်လျော်သောနေရာတွင်ရှိရမည်ဖြစ်သည့်အပြင်ခွင့်ပြုမိန့်ဆက်လက်လျှောက်ထားရာ၌လည်း လိုအပ်လာမည့် ရှေ့နောက် ဘေးအိမ်များ၏ ကန့်ကွက်မှုမရှိခြင်းဟူသော အထောက်အထားရယူနိုင်ရန် ကြိုတင်စိစစ်ဆောင်ရွက်ထားရှိသင့်ပါသည်။

၆။ Yangon Excelisor Co.,Ltd.သည် ပန်းဘဲတန်းမြို့နယ်၊ ဗိုလ်ဆွန်ပက်လမ်းတွင်တည်ရှိကာ ဗိုလ်ဆွန်ပက်လမ်းသည် တစ်လမ်းမောင်းဖြစ်ပြီးဝဲ၊ယာနှစ်ဘက်လုံး ယာဉ်ရပ်နားနိုင်သောလမ်းဖြစ်၍ အခြားတစ်လမ်းမောင်းလမ်းသွယ်များကဲ့သို့ မဟုတ်ဘဲမဟာဗန္ဓုလလမ်းကဲ့သို့ လမ်းကျယ်ဖြစ်ပြီး ဟိုတယ်ဝန်းအတွင်း၌မတည်ရှိဘဲ ဟိုတယ်၏အရှေ့လမ်းပေါ်တွင် ကားရပ်နားရန်အကျယ်ပေ(၂၀၀) ကျော်ရှိသဖြင့် ကား၂၀စီးခန့် ရပ်နားနိုင်ကြောင်း တင်ပြထားသည်ကို တွေ့ရှိရပါသည်။

၇။ အခန်းခနှုန်းထားများတွင် Deluxe room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၅၀)၊ Presidential Suite(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၂၅၀)စသည်ဖြင့် အခန်းခဈေးနှုန်းများသတ်မှတ်ထားသဖြင့်၎င်းရမ်းခနှုန်းထားများနှင့်အသုံးပြုမည့်ပစ္စည်းများ၊ပေးအပ်မည့်ဝန်ဆောင်မှုများလည်းလျော်ကန် သင့်တင့်ရန် လိုအပ်ပါသည်။

၈။ Yangon Excelisor Co., Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

၉။ သို့ဖြစ်ပါ၍ မြေဧရိယာကျဉ်းမြောင်းသော အနေအထား၊ရေဆိုးစွန့်ပစ်မှုစနစ်၊ ယာဉ်ရပ်နားရန်နေရာထည့်သွင်း တည်ဆောက်ခြင်းတို့အပါအဝင် မြေပြင်အခြေအနေအား အဆိုပြုလွှာစစ်ဆေးရေးအဖွဲ့မှ ကွင်းဆင်းစစ်ဆေးပြီးမှသာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ တင်ပြသင့်ကြောင်း အကြံပြုတင်ပြအပ်ပါသည်။

၂၂.၁၂.၂၀၁၅.

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို-

ရုံးလက်ခံ/မျှော

